# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/မ-ထွေ/၂၀၁၈ ( ၁၀၉ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီ လ ၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Resources Group Logistics Co., Ltd. မှ Vital Food Supply Co.,Ltd. သို့ အမည်ပြောင်းလဲ၍ ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ မြဝတီစီးပွားရေးဇုန် အတွင်းတွင် သွင်းကုန်/ထုတ်ကုန်ပစ္စည်းများအတွက် အထောက်အကူပြုလုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီး အကောက်ခွန်ရှင်းလင်းခြင်း လုပ်ငန်းများ၊ Logistics လုပ်ငန်းစသည့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်အတွက် Management Plan ပြန်လည်တင်ပြလာခြင်းကိစ္စ**

၁။ Resources Group Logistics Co., Ltd. မှ ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ မြဝတီစီးပွားရေးဇုန်အတွင်း သွင်းကုန်/ထုတ်ကုန် ပစ္စည်းများအတွက် အထောက်အကူပြုလုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီး အကောက်ခွန်ရှင်းလင်းခြင်းလုပ်ငန်းများနှင့် Logistics လုပ်ငန်း စသည့်ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ၂၀၁၇ခုနှစ် ဇွန်လ ၁၆ ရက်နေ့၌ ကျင်းပခဲ့သည့် (၉/၂၀၁၇) ကြိမ်မြောက် ကော်မရှင်အစည်းအဝေးသို့ တင်ပြခဲ့ရာ လုပ်ငန်းနှင့်ပတ်သက်သည့် Management Plan အား ပြန်လည်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ **(နောက်ဆက်တွဲ-က)**

၂။ ကုမ္ပဏီမှ ပြန်လည်တင်ပြလာသည့် Management Plan နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း တင်ပြအပ်ပါသည်-

(က) သွင်းကုန်/ထုတ်ကုန် ပစ္စည်းများအတွက် အထောက်အကူပြုလုပ်ငန်းများ ဖြစ်သည့် Documents Process၊ Custom Clearance (Import/ Export)၊ Stuffing & Unstuffing Services၊ Delivery Service များအတွက် ကုမ္ပဏီမှ ခန့်အပ်ထားသည့် Agents များ၊ Skill Labor များ၊ ကုမ္ပဏီများပိုင် စက်ယန္တရားနှင့် မော်တော်ယာဉ်များဖြင့် ၂၄ နာရီ ဝန်ဆောင်မှုပေးနိုင်ရေး စီမံဆောင်ရွက်မည် ဖြစ်ကြောင်း။

(ခ) Road Transport နှင့် သက်ဆိုင်သည့် Logistics လုပ်ငန်းများအတွက် မိမိတို့ ကုမ္ပဏီသည် ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနမှ ဆောင်ရွက်နေသည့် Cross Border Operation အတွက် Transport Operator License ရရှိထားပြီး ဖြစ်ပါ၍ သက်ဆိုင်ရာဦးစီးဌာန၏ လမ်းညွှန်မှုနှင့်အညီ မြန်မာနိုင်ငံ ကုန်သေတ္တာ မော်တော်ယာဉ်များအသင်းတို့နှင့် ပေါင်းစပ်ညှိနှိုင်း၍ Logistics လုပ်ငန်းများအား သတ်မှတ် စံချိန်စံညွှန်းနှင့်အညီ စီမံဆောင်ရွက်မည်ဖြစ်ကြောင်း။

(ဂ) အာမခံကုန်လှောင်ရုံ (Bonded Warehouse) ဖွင့်လှစ်အသုံးပြုခွင့် ရရှိရေးအတွက် အကောက်ခွန်ဦးစီးဌာန၏ သတ်မှတ်ညွှန်ကြားချက်နှင့်အညီ လျှောက်ထားခြင်း၊ အကောက်ခွန်ဦးစီးဌာန၏ မြေပြင်စစ်ဆေးရေးအဖွဲ့ဖြင့် စစ်ဆေးမှုကို ခံယူပြီး နောက် ကုန်လှောင်ရုံလိုင်စင်ရရှိရေးအား ဆောင်ရွက်မည်ဖြစ်ကြောင်း။

(ဃ) ပြည်ပမှ တင်သွင်းလာသည့်ကုန်ပစ္စည်းများအားကုန်လှောင်ရုံအတွင်းသို့ ထည့်သွင်း ခြင်း၊ ထုတ်ယူခြင်း၊ ရွှေ့ပြောင်းခြင်းများနှင့် ပတ်သက်၍ အကောက်ခွန်ဦးစီးဌာန၏ သတ်မှတ်ပုံစံများနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားပြီးနောက် အကောက်ခွန်ကြီး ကြပ်မှုဖြင့် သိုလှောင်မည့် ကုန်လှောင်ရုံသို့ သွင်းကုန်ကြေညာလွှာ (Into-Bond ID) နှင့်အတူ ထည့်သွင်းရာတွင် Warehouse Delivery Staff ၏ သတ်မှတ်ပေးသည့် နေရာသို့ Folk Lift Driver, Skill Labor များဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း။

(င) Bonded Warehouse အတွင်း သိုလှောင်ရန် တင်သွင်းလာသော ကုန်ပစ္စည်းများ အတွက် ကုန်ပစ္စည်းများတင်သွင်းသူမှ အကောက်ခွန်ဦးစီးဌာနသို့ Import Duty ပေးဆောင်စေမည်ဖြစ်ပြီး Custom Duty မပေးဆောင်မီ တင်သွင်းလာသည့် ကုန် ပစ္စည်းများအား Bonded Warehouse အတွင်းမှ ထုတ်ယူခွင့်မပြုကြောင်း ကုန်ပစ္စည်းတင်သွင်းသူများအား အသိပေးမည်ဖြစ်ကြောင်း။

(စ) Bonded Warehouse အတွင်း ကုန်ပစ္စည်းများထားသိုမှုနှင့် ပတ်သက်၍ ကုန် ပစ္စည်းများ သိုလှောင်မှုစနစ် (Storage Plan) ထားရှိပြီး သိုလှောင်ရမည့် ပစ္စည်း အမျိုးအစားများ၏ လိုအပ်ချက်အရ အထူးလုံခြုံမှုရှိသောအခန်း (Strong Room) နှင့် အအေးခန်း (Cool Store Room) များတွင် ခွဲခြားထားရှိ သိုလှောင်မည်ဖြစ် ကြောင်း။

(ဆ) ကုန်ပစ္စည်းပိုင်ရှင်များသည် Bonded Warehouse တွင် သိုလှောင်ထားသည့် ပစ္စည်းများအား ပြည်တွင်းသုံးစွဲမှုအတွက်ပြန်လည်ထုတ်ယူလိုပါက သွင်းကုန် ကြေညာလွှာ (ID/EX-Bond ID) ဖွင့်လှစ်၍ အခွန်ကောက်ခံခြင်းအား ပုံမှန် တင်သွင်းမှု လုပ်ငန်းစဉ်ဖြင့်လည်းကောင်း၊ ပြည်ပသို့ ပြန်လည်တင်ပို့ရန် ထုတ်ယူ ခြင်းဖြစ်ပါက (ED/EX-Bond ED) ဖွင့်လှစ်၍ အခွန်ကောက်ခံခြင်းအား ပုံမှန် တင်ပို့မှုလုပ်ငန်းဖြင့်လည်းကောင်း ဆောင်ရွက်မည်ဖြစ်ကြောင်း။

(ဇ) ကုန်ပစ္စည်းလက်ခံခြင်းနှင့် ထုတ်ပေးခြင်းများအား အကောက်ခွန်ဦးစီးဌာနမှ ဆောင် ရွက်သည့် IT System အတိုင်းဆောင်ရွက်သွားပြီး အကောက်ခွန်ဦးစီးဌာန၏ စာရင်း ဇယားထိန်းသိမ်းမှုနည်းလမ်းအတိုင်း စာရင်းပြုစုထိန်းသိမ်းထားရှိ၍ အဝင်/အထွက် စာရင်းအား သီးခြားပြုစုပေးပို့မည်ဖြစ်ကြောင်း။

(ဈ) ကုန်လှောင်ရုံအတွင်း၌ Minor Processing များဖြစ်သည့် Stuffing/ Unstuffing, Repackaging, Labeling စသည့် လုပ်ငန်းများအား သက်ဆိုင်ရာ၏ ခွင့်ပြုချက် ရယူပြီး Warehouse Manager ၏ ကြီးကြပ်မှုအောက်တွင် ဆောင်ရွက်မည်ဖြစ်ပါ ကြောင်း။

**စိစစ်တင်ပြချက်**

၃။ အဆိုပါလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပါလုပ်ငန်းနှင့် စပ်လျဉ်း၍ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ မြဝတီကုန်သွယ်ရေးဇုန်အတွင်းရှိ အခြားသင့်လျော်မည့်နေရာတွင် ဦးစားပေးစဉ်းစားဆောင်ရွက်သင့်ပါကြောင်းနှင့် ကရင်ပြည်နယ်အစိုးရအဖွဲ့၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိမ်းရေးဝန်ကြီးဌာနတို့မှ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်။

(ခ) Resources Group Logistics Co., Ltd. မှ ညီနောင်ကုမ္ပဏီဖြစ်သည့် Vital Food Supply Co., Ltd. အမည်ဖြင့် ပြောင်းလဲဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) အဆိုပါလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏသည် ကျပ် ၄,၂၂၅.၃၆ သန်း ဖြစ်ပြီး Nyi Naung Oo Co., Ltd. ထံမှ မြေနေရာအား ငှားရမ်းဆောင်ရွက်ခြင်း ဖြစ်သည့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင်သည့် လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

(ဃ) အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေသစ်အရ ဦးစားပေးဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများစာရင်းတွင် ပါဝင်ပါသည်။

(င) အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်အတွက် အကျုံးဝင်သည့်ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ဇုန် (၁) ဖွံ့ဖြိုးမှုနည်းပါးသောဒေသများစာရင်းတွင် ပါဝင်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Vital Food Supply Co., Ltd. မှ မြဝတီစီးပွားရေးဇုန်အတွင်း သွင်းကုန်/ထုတ်ကုန် ပစ္စည်းများအတွက် အထောက်အကူပြုလုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီး အကောက်ခွန်ရှင်းလင်းခြင်းလုပ်ငန်းများနှင့် Logistics လုပ်ငန်း စသည့်ဝန်ဆောင်မှုလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Management Plan တင်ပြလာခြင်းအပေါ် အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

**နောက်ဆက်တွဲ- က**

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၂၀၁၇ ခုနှစ်၊ ဇွန်လ (၁၆) ရက်၊ (၁၀း၀၀) နာရီတွင် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန၊ အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၉/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးမှတ်တမ်း

အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးသို့ တက်ရောက်ကြပါသည်-

ဦးကျော်ဝင်း — ဥက္ကဋ္ဌ
ပြည်ထောင်စုဝန်ကြီး
စီမံကိန်းနှင့် ဘဏ္ဍာရေး ဝန်ကြီးဌာန

ဦးခင်မောင်ရီ — အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန

ဦးထိန်လွင် — အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
လျှပ်စစ်နှင့် စွမ်းအင် ဝန်ကြီးဌာန

ဦးမျိုးအောင် — အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

ဦးတိုးအောင်မြင့် — အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဦးဌေးချွန် — အဖွဲ့ဝင်
ဒုတိယညွှန်ကြားရေးမှူးချုပ် (ငြိမ်း)
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဒေါ်မြသူဇာ | တွဲဖက်
ဒုတိယညွှန်ကြားရေးမှူးချုပ် (ငြိမ်း) | အတွင်းရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန

**အစည်းအဝေး မတက်ရောက်သူများ (တာဝန်)**

ဒေါက်တာသန်းမြင့် | ဒုတိယဥက္ကဋ္ဌ
ပြည်ထောင်စုဝန်ကြီး
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဦးထွန်းထွန်းဦး | အဖွဲ့ဝင်
ပြည်ထောင်စုရှေ့နေချုပ်
ပြည်ထောင်စုရှေ့နေချုပ်ရုံး

ဦးလှကျော် | အဖွဲ့ဝင်
ဒုတိယဝန်ကြီး
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

ဦးထွန်းထွန်းနိုင် | အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
စီမံကိန်းနှင့် ဘဏ္ဍာရေး ဝန်ကြီးဌာန

ဦးအေးလွင် | အဖွဲ့ဝင်
ဗဟိုအလုပ်အမှုဆောင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ
အသင်းချုပ်

ဦးအောင်နိုင်ဦး | အတွင်းရေးမှူး
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

**ကိုယ်စားလှယ်/ ဘာသာရပ်/ ကျွမ်းကျင်သူအဖြစ် တက်ရောက်သူများ**

ဦးစိုးလှိုင်
ပြည်နယ် လျှပ်စစ်နှင့် စက်မှုဝန်ကြီး
ဥက္ကဋ္ဌ၊ မြဝတီ စီးပွားရေးဇုန် စီမံခန့်ခွဲမှု ကော်မတီ
ကရင်ပြည်နယ်

ဒေါက်တာရဲထွန်းဝင်း
ညွန်ကြားရေးမှူးချုပ်
မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာန
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

ဦးဇော်ထွန်းမြင့်
ဒုတိယညွှန်ကြားရေးမှူးချုပ်
စိုက်ပျိုးရေးဦးစီးဌာန
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

ဦးမျိုးဆွေ
ဒုတိယညွှန်ကြားရေးမှူးချုပ်
ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန

ဦးအောင်မြင့်ဦး
ဒုတိယညွှန်ကြားရေးမှူးချုပ်
လမ်းဦးစီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန

ဦးဟိန်းထက်
ဒုတိယညွှန်ကြားရေးမှူးချုပ်
လျှပ်စစ်စွမ်းအား စီမံရေး ဦးစီးဌာန
လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန

ဦးတင့်လွင်
ဒုတိယအင်ဂျင်နီယာချုပ် (မြို့ပြ)
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန

ဦးနိုင်ဝင်း
ညွှန်ကြားရေးမှူး
ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန
ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန

ကော်မရှင်အစည်းအဝေးမှ Delicious Food Ltd. မှ လယ်ယာထွက်ကုန်နှင့် စိုက်ပျိုးရေးနှင့် ဆက်စပ်သော စားသောက်ကုန်ပစ္စည်းများနှင့် လူသုံးကုန်ပစ္စည်းများ အရောင်းပြခန်းဖွင့်လှစ်၍ ရောင်းချခြင်း လုပ်ငန်းအား မူအားဖြင့် သဘောတူကြောင်း၊ မြေငှားရမ်းခနှုန်းကို စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနနှင့် ညှိနှိုင်းပြီး ကော်မရှင်သို့ ပြန်လည်တင်ပြရန် ဆုံးဖြတ်ပါသည်။

**၁၅။ Resources Group Logistics Co., Ltd. မှ ကရင်ပြည်နယ်၊ မြဝတီမြို့၊ မြဝတီစီးပွားရေးဇုန် အတွင်းတွင် သွင်းကုန်/ထုတ်ကုန်ပစ္စည်းများအတွက် အထောက်အကူပြု လုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီး အကောက်ခွန်ရှင်းလင်းခြင်း လုပ်ငန်းများ၊ Logistics လုပ်ငန်း စသည့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

ကော်မရှင်တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက အမှာစာပါ အကြောင်းအရာအား ဖော်ပြလျှက် အဓိကအချက်များကို ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ တာဝန်ရှိသူက ရင်းနှီးမြှုပ်နှံမည့် လုပ်ငန်းအခြေအနေများနှင့် ဆောင်ရွက်မည့် လုပ်ငန်းစဉ်များကို power point ဖြင့် ရှင်းလင်းတင်ပြပါသည်။

အကောက်ခွန်ဦးစီးဌာနမှ တာဝန်ရှိသူက ကုမ္ပဏီ၏ ကော်မရှင်ခွင့်ပြုပြီးဖြစ်သော နေရာအား ငှားရမ်းလုပ်ကိုင်မည်ဖြစ်သည်ကိုတွေ့ရကြောင်း၊ လက်ရှိလုပ်မည့်ကုမ္ပဏီအတွက် ကော်မရှင်၏ ခွင့်ပြုချက်လိုကြောင်း၊ သက်ဆိုင်ရာမြို့နယ်ထောက်ခံချက်လိုကြောင်း၊ မီးသတ် ဦးစီးဌာန၏ ထောက်ခံချက်လိုကြောင်း၊ သိုလှောင်ရာတွင် Chemical ပစ္စည်းများနှင့် Food ၊ Medicine တို့ထားရှိပုံ၊ ရေဘေးမီးဘေးနှင့် ပတ်သက်သည့်စီမံချက်များ လိုအပ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးကျော်ဝင်းက Bonded Warehouse ကို ကျယ်ကျယ်ပြန့်ပြန့်လုပ်ရန် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနတို့နှင့် ဆွေးနွေးနေကြကြောင်း၊ Storage System နှင့်ပတ်သက်၍ Storage Management သည် အရေးကြီးကြောင်း၊ မတူညီသည့် ကုန်စည်အနေအထားများကို Store လုပ်ရကြောင်း၊ သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားများကိုလည်း ယူရမည်ဖြစ်ကြောင်း၊ Management Plan ကို ထည့်ပေးရန်လိုကြောင်း၊ ပြည့်စုံအောင် တင်ပြရန်ဖြစ်ကြောင်း ဆွေးနွေးပြောကြားရာ ကုမ္ပဏီက Dry Port လုပ်ငန်းကိုလည်း တင်ဒါရထားကြောင်း၊ ဒဂုံအရှေ့ဆိပ်ကမ်းတွင်လည်း Dagon International နှင့် ဆောင်ရွက်နေ ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အဖွဲ့ဝင် အမြဲတမ်းအတွင်းဝန် ဦးတိုးအောင်မြင့်က Bonded Warehouse လုပ်ငန်းများကို ကြိုဆိုပါကြောင်း၊ ဇုန်ကိုဖြတ်ပြီးမှ လာရမည်ဖြစ်၍ SOP လုပ်ရန်၊ ဇုန်ထဲမှာ လုပ်ရန် အကြံပြုချင်ကြောင်း၊ လုပ်ငန်းအကောင်အထည်ဖော်ရာတွင် လုပ်ရမည့် Procedure များကို အပြည့်အစုံလုပ်ပေးရန် လိုအပ်ကြောင်း၊ ခွင့်ပြုပေးသည့် နောက်ပိုင်းတွင် ဆက်လုပ်ရမည့် လုပ်ငန်းများရှိကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်ဥက္ကဋ္ဌက ကုန်ပစ္စည်းများကို Bonded Warehouse တွင် ထည့်မည်ဆိုလျှင် မည်သည့်နည်းစနစ်ဖြင့်သုံးသည်နှင့် ပြင်ပတွင် ရှိ-မရှိ မေးမြန်းရာ ကုမ္ပဏီမှတာဝန်ရှိသူက Fork Lift ကို အသုံးပြုကြောင်း၊ ပြင်ပတွင် ပလက်ဖောင်းတစ်ခု ထားရှိမည်ဖြစ်ကြောင်း၊ ကားပါကင် အတွက် အကျယ်အဝန်းမှာ ၄၀၀၀ စတုရန်းမီတာ (၂)ခုရှိကြောင်း၊ ကားအစီးရေ (၅၀)ခန့် ရပ်နားနိုင်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ဆက်လက်၍ ကော်မရှင်ဥက္ကဋ္ဌက လုပ်ငန်းနှင့်ပတ်သက်သည့် Management Plan ကို တင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်အစည်းအဝေးမှ Resources Group Logistics Co., Ltd. မှ ကရင်ပြည်နယ်၊ မြဝတီမြို့၊ မြဝတီစီးပွားရေး ဇုန်အတွင်းတွင် သွင်းကုန်/ထုတ်ကုန်ပစ္စည်းများအတွက် အထောက်အကူပြု လုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီး အကောက်ခွန်ရှင်းလင်းခြင်း လုပ်ငန်းများ၊ Logistics လုပ်ငန်းစသည့်ဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် စပ်လျဉ်း၍ လုပ်ငန်းနှင့် ပတ်သက်သည့် Management Plan ကို တင်ပြရန် ဆုံးဖြတ်ပါသည်။

**၁၆။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မောင့်(န်ထ်) ထရက်ရှာ ကုမ္ပဏီလီမိတက် တည်ထောင်၍ ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C-Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ကော်မရှင်တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက အမှာစာပါ အကြောင်းအရာအား ဖော်ပြလျှက် အဓိကအချက်များကို ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ တာဝန်ရှိသူက ရင်းနှီးမြှုပ်နှံမည့် လုပ်ငန်းအခြေအနေများနှင့် ဆောင်ရွက်မည့် လုပ်ငန်းစဉ်များကို power point ဖြင့် ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးကျော်ဝင်းက အဆောက်အဦးတန်ဖိုးကို စက်များတင်သွင်းသည့်နိုင်ငံ၊ကုန်ချောတင်ပို့မှု အခြေအနေ၊ Order နှင့် လုပ်-မလုပ်၊ ဒီဇိုင်းအမျိုးအစား

| | ဆုံးဖြတ်ချက်များ | ဆောင်ရွက်ရန် |
|---|---|---|
| | tanks, terminals, warehouses and other storage facilities for edible oils and its related products (စားသုံးဆီများနှင့် ၎င်း၏ ဆက်စပ် ထုတ်ကုန်များအတွက် သိုလှောင်ကန်များ၊ ပို့ဆောင်သယ်ယူရန် သိုလှောင်ရုံများ၊ ကုန်စည်သိုလှောင် ရုံများနှင့် အခြားသော သိုလှောင်မှုအထောက်အပံ့များကို ဆောက်လုပ်ခြင်းနှင့် လုပ်ငန်း လည်ပတ်ခြင်း) လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | ကော်မရှင်ရုံး |
| (ဌ) | Asia Rising Star Travel & Tour Company Limited မှ မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ မာလာဖူးကျေးရွာအုပ်စု၊ မာလာဖူး အပြင်ကွင်း၊ ကွင်းအမှတ် OSS-၂၅၊ မြေ ၅.၆၄ ဧကပေါ်တွင် ကျိုက်ထိုဟိုတယ်အမည်ဖြင့် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဍ) | Delicious Food Ltd. မှ လယ်ယာထွက်ကုန်နှင့် စိုက်ပျိုးရေးနှင့် ဆက်စပ်သော စားသောက်ကုန်ပစ္စည်းများနှင့် လူသုံးကုန်ပစ္စည်းများ အရောင်းပြခန်းဖွင့်လှစ်၍ ရောင်းချခြင်း လုပ်ငန်းအား မူအားဖြင့် သဘောတူကြောင်း၊ မြေငှားရမ်းခ နှုန်းကို စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနနှင့် ညှိနှိုင်းပြီး ကော်မရှင်သို့ ပြန်လည်တင်ပြရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဎ) | Resources Group Logistics Co., Ltd. မှ ကရင်ပြည်နယ်၊ မြဝတီမြို့၊ မြဝတီစီးပွားရေး ဇုန်အတွင်းတွင် သွင်းကုန်/ထုတ်ကုန် ပစ္စည်းများအတွက် အထောက်အကူပြုလုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီး အကောက်ခွန်ရှင်းလင်းခြင်း လုပ်ငန်းများ၊ Logistics လုပ်ငန်းစသည့်ဝန်ဆောင်မှု လုပ်ငန်းများအား ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့် စပ်လျဉ်း၍ လုပ်ငန်းနှင့်ပတ်သက်သည့် Management Plan ကို တင်ပြရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဏ) | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မောင့်(န်ထ) ထရက်ရှာ ကုမ္ပဏီလီမိတက် တည်ထောင်၍ ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြား | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု |

# RESOURCES GROUP LOGISTICS COMPANY LIMITED

No.36, Thein Phyu Road, Pazundaung Township, Yangon, Myanmar.

Tel : 01-200273, 01-8610656, 01-8610657,Fax: 01-8610734, Email:rglcla@gmail.com


M4 - ၁၁၆၅
15.12.17

စာအမှတ်။ ။ RGLC/ 006 – (12) / 2017

ရက်စွဲ။ ။၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ (၁၅ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ Resources Group Logistics Co., Ltd မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် တင်ပြထားသည့် ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ မြဝတီစီးပွားရေးဇုန်အတွင်းတွင် ဆောင်ရွက်မည့်သွင်းကုန်/ထုတ်ကုန် ပစ္စည်းများအတွက် အထောက်အကူပြုလုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီး အကောက်ခွန်ရှင်းလင်းခြင်း လုပ်ငန်းများ၊ Logistics လုပ်ငန်းစသည့် ဝန်ဆောင်မှုလုပ်ငန်းများနှင့် ပတ်သက်၍တင်ပြခြင်း။

၁။ Resources Group Logistics Co., Ltd သည် ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ မြဝတီစီးပွားရေးဇုန်၏ မြေကွက်အမှတ် (စီ-၇) နှင့် (စီ-၈) တွင် မြေဧရိယာ (၅.၅၂) ဧက အား ညီနောင်ဦးကုမ္ပဏီထံမှ တစ်ဆင့် ငှားရမ်း၍ ထုတ်ကုန်ပစ္စည်းများအတွက် အထောက်အကူပြုလုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီးအကောက်ခွန်ရှင်းလင်းခြင်း လုပ်ငန်းများနှင့် Logistics လုပ်ငန်းစသည့် ဝန်ဆောင်မှုလုပ်ငန်းများအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခဲ့မှုအပေါ် ၂၀၁၇ ခုနှစ်၊ ဇွန်လ (၁၆) ရက်နေ့တွင် ကျင်းပခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးမှ "လုပ်ငန်းနှင့် ပတ်သက်သည့် Management Plan" ကို တင်ပြရန်ဆုံးဖြတ်ခဲ့ရာ ကုမ္ပဏီမှဆောင်ရွက်မည့် လုပ်ငန်းများအတွက် စီမံခန့်ခွဲမှုအစီအစဉ် (Management Plan) အား Resources Group Logistics Co.,Ltd ၏ (၁၇.၁၁.၂၀၁၇) ရက်စွဲပါ စာအမှတ်-RGLC/001-(11)/2017 ဖြင့် ပြန်လည်ပေးပို့တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ Resources Group Logistics Co., Ltd သည် နိုင်ငံတော်စီမံကိန်းဖြစ်သည့် ကုန်းတွင်းဆိပ်တည်ဆောက်၍ဝန်ဆောင်မှုလုပ်ငန်း (Dry Port Project) အပါအဝင် အခြား တည်ဆောက်ရေးလုပ်ငန်းများနှင့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်နေရသည့်အတွက် မြဝတီစီးပွားရေးဇုန်တွင် ဆောင်ရွက်မည့်လုပ်ငန်းများအား Resources Group Logistics Co., Ltd ၏ကိုယ်စား အကျိုးစီးပွား

တစ်စုတစ်စည်းတည်းဖြင့် အတူတကွဆောင်ရွက်နေသည့် နိုင်ငံသားပိုင်ညီနောင်ကုမ္ပဏီ ဖြစ်သည့် ဗိုက်တယ်ဖုဒ်ဆပ်ပလိုင်း ကုမ္ပဏီလီမိတက် (Vital Food Supply Company Limited) ဖြင့် ပြောင်းလဲလုပ်ဆောင်ရန် ဆန္ဒရှိပါသည်။

၃။ သို့ဖြစ်ပါ၍ ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ မြဝတီစီးပွားရေးဇုန်အတွင်းတွင် ဆောင်ရွက်မည့် သွင်းကုန်/ထုတ်ကုန်ပစ္စည်းများအတွက် အထောက်အကူပြုလုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီးအကောက်ခွန်ရှင်းလင်းခြင်း လုပ်ငန်းများ၊ Logistics လုပ်ငန်းစသည့် ဂန်ဆောင်မှု လုပ်ငန်းများနှင့်ပတ်သက်၍ Resources Group Logistics Co., Ltd (အစား) Vital Food Supply Co., Ltd ဖြင့် ပြောင်းလဲလုပ်ကိုင်ခွင့်ရရှိရေး၊ လိုအပ်သလို စီစဉ်ဆောင်ရွက်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်



ဦးမြင့်မော်
မန်နေဂျင်းဒါရိုက်တာ
Resources Group Logistics Co., Ltd.

1151

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ........၁၀၁၀......... / ၂၀၁၆–၂၀၁၇(ရက)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ .....ဗိုက်တယ် ဖုဒ် ဆက်ပလိုင်း ကုမ္ပဏီ လီမိတက်.................................. အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၁၆ ခုနှစ်၊ ....ဇွန်...... လ၊ ၁၇ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

(နီလာမူ ၊ ညွှန်ကြားရေးမှူး )

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR

MINISTRY OF PLANNING AND FINANCE

# CERTIFICATE OF INCORPORATION

NO. ..........1010.............. of 2016-2017 (YGN)

I hereby certify that ......VITAL FOOD SUPPLY COMPANY LIMITED.......................................................................................is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Yangon this ..........SEVENTEENTH..... ..........day of ..........JUNE... TWO THOUSAND AND SIXTEEN..........................................

For Director General

(Nilar Mu , Director)

Directorate of Investment and Company Administration

005309

FORM VI

**RETURN OF ALLOTMENTS**
**THE MYANMAR COMPANIES ACT.**

(See Section 104)

(To be filed with the Registrar within one month after the allotment is made)

Return of allotment from the 24th of JUNE 2016

on the 24th of JUNE 2016 of the * VITAL NUTRIENTS SUPPLY COMPANY LIMITED.

Made pursuant to Section 104 (1)

Number of the shares allotted payable in cash .................. 100,000 SHARES

" " " " ..................

Nominal amount of the shares so allotted .................. KS.1,000,000,000/-

" " " " ..................

Amount paid or due and payable on cash such share .................. KS.10,000/-

" " " " .................. (FULLY PAID UP )

Number of ordinary shares allotted for a consideration other than cash

Nominal amount to be ordinary shares so allotted ..................

Amount to be treated as paid on each such share ..................

The consideration for which such share have been allotted is as follow : -

---

**NOTE** In making a return of allotments under Section 104 (1) the Myanmar Companies Act., it is to be noted that -

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.
2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

006260

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

**( Myanmar Companies Act, See Section 87 )**

Name of Company : VITAL FOOD SUPPLY CO.,LTD.

Presented by : U NE LIN(M.D)

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U NE LIN | MYANMAR<br>12/PA ZA TA(NAING)<br>031498 | NO.(C/4),MON MYAT MYITTAR RESIDENCE,PIN SHWE NYAUNG STREET,TAMWEKALAY WARD,TAMWE TOWNSHIP, YANGON. | MERCHANT | APPOINTED AS MANAGING DIRECTOR<br>w.e.f( 24.6.2016 ) |
| 2. U KYAW THAR OO | MYANMAR<br>12/LA MA TA(NAING)<br>001558 | NO.64,SHWE TAUNG TAN STREET,LANMADAW TOWNSHIP, YANGON. | MERCHANT | APPOINTED AS DIRECTOR<br>w.e.f( 24.6.2016 ) |
| 3. U MYINT MAW | MYANMAR<br>12/PA ZA TA(NAING)<br>023691 | NO.403,KAYAEMYAING STREET,23-WARD,THINGANGYUN TOWNSHIP,YANGON. | MERCHANT | APPOINTED AS<br>DIRECTOR<br>w.e.f( 24.6.2016 ) |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ............................ and by writing against any former Director's name the the word "dead" "resigned" or as the case may be giving the date of change against the entry.

VITAL FOOD SUPPLY CO., LTD. No.......... Date..........

Signature ..........................................

Designation ..........................................

NE LIN
MANAGING DIRECTOR
VITAL FOOD SUPPLY CO., LTD.

Dated this 24. 6.2016

Form (26)

**RESOURCES GROUP LOGISTICS COMPANY LIMITED**

No.36, Thein Phyu Road, Pazundaung Township, Yangon, Myanmar.

Tel : 01-200273, 01-8610656, 01-8610657,Fax: 01-8610734, Email:rglcla@gmail.com

## ဒါရိုက်တာအဖွဲ့အစည်းအဝေးမှတ်တမ်း

အစည်းအဝေးကျင်းပသည့်နေ့ရက် - ၁၃.၁၂.၂၀၁၇

အစည်းအဝေးကျင်းပသည့်အချိန် - နံနက် (၀၉း၀၀) နာရီ

အစည်းအဝေးကျင်းပသည့်နေရာ - Resources Group Logistics Co., Ltd ၏ အစည်းအဝေးခန်းမ

| | တက်ရောက်သူများ | ရာထူး | လက်မှတ် |
|---|---|---|---|
| ၁။ | ဦးမောင်ကျေး | ဥက္ကဋ္ဌ (၁) | ------------------------------ |
| ၂။ | ဦးသန်းမြင့် | ဥက္ကဋ္ဌ (၂) | ------------------------------ |
| ၃။ | ဦးမြင့်မော် | မန်နေးဂျင်းဒါရိုက်တာ | ------------------------------ |
| ၄။ | ဦးကျော်သာဦး | ဒါရိုက်တာ | ------------------------------ |
| ၅။ | ဦးနေလင်း | ဒါရိုက်တာ | ------------------------------ |
| ၆။ | ဒေါ်နီလာကျော် | ဒါရိုက်တာ | ------------------------------ |
| ၇။ | ဦးကိုကိုသန့် | မှတ်တမ်းတင်သူ | ------------------------------ |

### သဘာပတိမှအဖွင့်အမှာစကားပြောကြားခြင်း

၁။ အစည်းအဝေးတွင် သဘာပတိအဖြစ်ဆောင်ရွက်သည့် ဥက္ကဋ္ဌ(၁) ဦးမောင်ကျေးမှ အဖွင့်အမှာစကား ပြောကြားရာတွင် Resources Group Logistics Co., Ltd သည် ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ မြဝတီစီးပွားရေး ဇုန်၏ မြေကွက်အမှတ် (စီ-၇) နှင့် (စီ-၈) တွင် မြေဧရိယာ (၅.၅၂) ဧက အား ညီနောင်ဦးကုမ္ပဏီမှ ထပ်ဆင့် ငှားရမ်း၍ ထုတ်ကုန်ပစ္စည်းများအတွက် အထောက်အကူပြုလုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီး အကောက်ခွန်ရှင်းလင်းခြင်းလုပ်ငန်းများနှင့် Logistics လုပ်ငန်းစသည့် ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ခွင့် ရရှိရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ပါကြောင်း၊ (၁၆.၆.၂၀၁၇) ရက်နေ့တွင် ကျင်းပခဲ့ သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉/၂၀၁၇ ကြိမ်မြောက်အစည်းအဝေးတွင် လုပ်ငန်းနှင့်ပတ်သက်၍

Management Plan ရေးဆွဲတင်ပြရန်ဆုံးဖြတ်ခဲ့ကြောင်း၊ အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီကုမ္ပဏီမှ ဆောင်ရွက်မည့် Management Plan အား DICA သို့ပြန်လည်တင်ပြထားပြီးဖြစ်ပါကြောင်း ရှင်းလင်းဆွေးနွေးပါသည်။

၂။ ဆက်လက်၍ သဘာပတိဦးမောင်ကျေးမှ Resources Group Logistics Co., Ltd သည် Dry Port Project အပါအဝင် အခြားတည်ဆောက်ရေးလုပ်ငန်းများနှင့် Logistics လုပ်ငန်းများ ဆောင်ရွက်နေသည့်အတွက် လုပ်ငန်းများ များပြားနေသဖြင့် မြဂဝတီစီးပွားရေးဇုန်တွင် ဆောင်ရွက်မည့်လုပ်ငန်းများအား Resources Group Logistics Co., Ltd တွင်ပါဝင်သည့် BOD အဖွဲ့များဖြင့် ဖွဲ့စည်းထားသည့် ညီနောင်ကုမ္ပဏီဖြစ်သည့် Vital Food Supply Co., Ltd ဖြင့် ပြောင်းလဲဆောင်ရွက်ရန် ဆန္ဒရှိပါကြောင်း၊ ယခုအစည်းအဝေးတွင် တက်ရောက်သူများမှ သဘောတူညီပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည်တင်ပြသွားရန်စီစဉ်ထားရှိပါကြောင်းနှင့် MIC ခွင့်ပြုချက်ရရှိပါက မြဂဝတီစီးပွားရေးဇုန်တွင် ဆောင်ရွက်မည့်လုပ်ငန်းအရပ်ရပ်အား Vital Food Supply Co., Ltd မှသာ ဆက်လက်၍ တာဝန်ယူဆောင်ရွက်သွားမည်ဖြစ်ကြောင်းရှင်းလင်းဆွေးနွေးပါသည်။

<u>အစည်းအဝေးဆုံးဖြတ်ချက်များ</u>

၃။ Resources Group Logistics Co., Ltd အမည်ဖြင့်ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ မြဝတီစီးပွားရေးဇုန်၏ မြေကွက်အမှတ် (စီ-၇) နှင့် (စီ-၈) တွင် မြေဧရိယာ (၅.၅၂) ဧကအားငှားရမ်း၍ ထုတ်ကုန်ပစ္စည်းများအတွက် အထောက်အကူပြုလုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီး အကောက်ခွန်ရှင်းလင်းခြင်းလုပ်ငန်းများ နှင့် Logistics လုပ်ငန်းစသည့် ဝန်ဆောင်မှုလုပ်ငန်းများအား Resources Group Logistics Co., Ltd (အစား) Vital Food Supply Co., Ltd ဖြင့်ဆောင်ရွက်ခွင့်ရရှိရေး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည်တင်ပြရန် နှင့်ဆောင်ရွက်ခွင့်ရရှိပါက အဆိုပါကုမ္ပဏီဖြင့်သာ လုပ်ငန်းများဆက်လက်ဆောင်ရွက်သွားရေးတို့အား လက်ခံ သဘောတူကြပါသည်။

၄။ ထို့နောက်သဘာပတိမှ အခြားလိုအပ်သည်များကို ဆွေးနွေးမှာကြားပြီး အစည်းအဝေးကိုနံနက် (၁၀း၃၀) နာရီတွင် ရုတ်သိမ်းလိုက်ပါသည်။

| မှတ်တမ်းတင်သူ | အတည်ပြုသူ |
|---|---|
| **Ko Ko Thant** | **U Maung Kyay** |
| **General Manager** | **Chairman (1)** |
| **Resources Group Logistics Co., Ltd.** | **Resources Group Logistics Co., Ltd** |

# RESOURCES GROUP LOGISTICS COMPANY LIMITED

No.36, Thein Phyu Road, Pazundaung Township, Yangon, Myanmar.

Tel : 01-200273, 01-8610656, 01-8610657,Fax: 01-8610734, Email:rglcla@gmail.com


M4-1071
17.11.017

စာအမှတ်။ ။ RGLC/ 004 – (11) / 2017

ရက်စွဲ။ ။၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ ( ၁၅ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ Resources Group Logistics Co., Ltd မှ ကရင်ပြည်နယ်၊ မြဝတီမြို့၊ မြဝတီစီးပွားရေးဇုန်အတွင်းတွင် ဆောင်ရွက်မည့် သွင်းကုန်/ထုတ်ကုန် ပစ္စည်းများ အတွက် အထောက်အကူပြုလုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီးအကောက်ခွန်ရှင်းလင်းခြင်း လုပ်ငန်းများ၊ Logistics လုပ်ငန်းစသည့် ဝန်ဆောင်မှုလုပ်ငန်းများနှင့် ပတ်သက်သည့် Management Plan အားပေးပို့ခြင်း။

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆.၆.၂၀၁၇ ရက်စွဲပါ စာအမှတ် - မရက-၄-မ/၁၅၇၃/၂၀၁၇

၁။ Resources Group Logistics Co., Ltd သည် မြဝတီမြို့နယ်၊ မြဝတီစီးပွားရေးဇုန်၏ မြေကွက်အမှတ် (စီ-၇) နှင့် (စီ-၈) တွင် မြေဧရိယာ (၅.၅၂) ဧက အားငှားရမ်း၍ ထုတ်ကုန်ပစ္စည်းများ အတွက် အထောက်အကူပြုလုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီး အကောက်ခွန်ရှင်းလင်းခြင်းလုပ်ငန်းများနှင့် Logistics လုပ်ငန်းစသည့်ဝန်ဆောင်မှုလုပ်ငန်းများအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြခဲ့မှုအပေါ် ၂၀၁၇ ခုနှစ် ဇွန်လ ၁၆ ရက်နေ့တွင် ကျင်းပခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၉/၂၀၁၇ ကြိမ်မြောက်အစည်းအဝေးမှ "လုပ်ငန်းနှင့်ပတ်သက်သည့် Management Plan" ကို တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။

၂။ အထက်ပါအစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းများအတွက် စီမံခန့်ခွဲမှုအစီအစဉ်(Management Plan) အားရေးဆွဲပြီးဖြစ်ပါ၍ လိုအပ်သလိုဆောင်ရွက်နိုင်ပါရန် ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးမြင့်မော်
မန်နေဂျင်းဒါရိုက်တာ
Resources Group Logistics Co., Ltd.

**RESOURCES GROUP LOGISTICS COMPANY LIMITED**

No.36, Thein Phyu Road, Pazundaung Township, Yangon, Myanmar.

Tel : 01-200273, 01-8610656, 01-8610657,Fax: 01-8610734, Email:rglcla@gmail.com

စာအမှတ်။ ။ RGLC/ 001 – (11) / 2017

ရက်စွဲ။ ။၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ (၁၅ )ရက်

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ Resources Group Logistics Co., Ltd မှ ကရင်ပြည်နယ်၊ မြဝတီမြို့၊ မြဝတီစီးပွားရေးဇုန်အတွင်းတွင် ဆောင်ရွက်မည့် သွင်းကုန်/ထုတ်ကုန် ပစ္စည်းများ အတွက် အထောက်အကူပြုလုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီးအကောက်ခွန်ရှင်းလင်းခြင်း လုပ်ငန်းများ၊ Logistics လုပ်ငန်း စသည့် ဝန်ဆောင်မှုလုပ်ငန်းများနှင့် ပတ်သက်သည့် Management Plan အားပေးပို့ခြင်း။

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆.၆.၂၀၁၇ ရက်စွဲပါ စာအမှတ် - မရက-၄-မ/၁၅၇၃/၂၀၁၇

၁။ Resources Group Logistics Co., Ltd သည် မြဝတီမြို့နယ်၊ မြဝတီစီးပွားရေးဇုန်၏ မြေကွက်အမှတ် (စီ-၇) နှင့် (စီ-၈) တွင် မြေဧရိယာ (၅.၅၂) ဧက အားငှားရမ်း၍ ထုတ်ကုန်ပစ္စည်းများ အတွက် အထောက်အကူပြုလုပ်ငန်းများ၊ Bonded Warehouse တည်ဆောက်ပြီး အကောက်ခွန် ရှင်းလင်းခြင်းလုပ်ငန်းများနှင့် Logistics လုပ်ငန်းစသည့်ဝန်ဆောင်မှုလုပ်ငန်းများအား မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြခဲ့မှုအပေါ် ၂၀၁၇ ခုနှစ် ဇွန်လ ၁၆ ရက်နေ့တွင် ကျင်းပခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၉/၂၀၁၇ ကြိမ်မြောက်အစည်းအဝေးမှ "လုပ်ငန်းနှင့်ပတ်သက်သည့် Management Plan" ကို တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။

၂။ အထက်ပါအစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းများအတွက် စီမံခန့်ခွဲမှုအစီအစဉ်(Management Plan) အားရေးဆွဲပြီးဖြစ်ပါ၍ လိုအပ်သလိုဆောင်ရွက်နိုင်ပါရန် ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးမြင့်မော်
မန်နေဂျင်းဒါရိုက်တာ
Resources Group Logistics Co., Ltd.

(စ) ကုန်ပစ္စည်းများအားအရောက်ပို့စနစ် ဆောင်ရွက်ပေးခြင်းနှင့်လုံခြုံမှုရှိစေရေး တာဝန်ယူ ဆောင်ရွက်ပေးခြင်း။

(ဆ) ဘဏ်လုပ်ငန်း၊ အာမခံလုပ်ငန်း၊ ငွေကြေးဆိုင်ရာဝန်ဆောင်မှုလုပ်ငန်းများ၊ အခြားဝန်ဆောင်မှုကိစ္စရပ်များအတွက်ပံ့ပိုးမှုလုပ်ငန်းများ ဆောင်ရွက်ပေးခြင်း။

<u>ကုန်လှောင်ရုံဝင်းအတွင်းထည့်သွင်းတည်ဆောက်လုပ်ကိုင်သွားမည့်လုပ်ငန်း/နေရာများ</u>

၄။ အောက်ဖော်ပြပါ လုပ်ငန်း/နေရာများကို ထည့်သွင်းဆောင်ရွက်သွားပါမည် -

(က) Bonded Warehouse

(ခ) ကုန်သေတ္တာများ ကုန်တင်/ကုန်ချရန်နေရာ

(ဂ) အုပ်ချုပ်ရေးမှူးရုံး

(ဃ) အကောက်ခွန်ဦးစီးဌာန၏ရုံးနေရာ

(င) အဝင်/အထွက်လုံခြုံရေးဂိတ်နှင့် လုံခြုံရေးအဖွဲ့ အိမ်နေရာ

(စ) ပတ်လည်အုတ်တံတိုင်းနံရံများနှင့်ခြံစည်းရိုးများ

(ဆ) ယာဉ်ယန္တရားများလုပ်ငန်းဆောင်ရွက်ရန်နေရာ

(ဇ) ကုန်တင်ယာဉ်များရပ်ရန်နေရာ

(ဈ) လျှပ်စစ်ဓါတ်အားဖြန့်ဖြူးပေးရန်နှင့်သုံးစွဲရန်နေရာများ

(ည) ကုန်လှောင်ရုံဝင်းအတွင်းဆောင်ရွက်သွားမည့် Project Layout Plan အား နောက်ဆက်တွဲ (ခ) ဖြင့် ဖော်ပြထားရှိပါသည်။

<u>လုပ်ငန်း/နေရာများနှင့်ပတ်သက်၍ဆောင်ရွက်သွားမည့်အချက်များ</u>

၅။ ကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်း/နေရာများ

(က) စီမံကိန်းဧရိယာအတွင်း၌ အလျား(၆၄) မီတာ x အနံ (၄၀) မီတာ ရှိ ဂိုဒေါင်(၂) လုံးအားတည်ဆောက်သွားမည်ဖြစ်ပြီး ဂိုဒေါင် (၁) လုံးအား Bonded Warehouse အဖြစ် အသုံးပြုသွားပါမည်။ Bonded Warehouse အတွင်း၌ Sqm (420) ရှိ Strong Room, Custom Office Room နှင့် Admin Office Room များထည့်သွင်းတည်ဆောက် သွားပါမည်။

(ခ) စီမံကိန်းဧရိယာအတွင်း၌အလျား (၂၅) မီတာ၊ အနံ (၁၆)မီတာ အကျယ်ရှိ Cold Store Yard (၂) နေရာထည့်သွင်းတည်ဆောက်သွားပြီး Reefer Container များဖြင့် ကုန်ပစ္စည်းများ သိုလှောင်နိုင်ရန်စီစဉ်ဆောင်ရွက်သွားပါမည်။

(ဂ) လုပ်ငန်းခွင်ဧရိယာလုံခြုံရေးအတွက် အလျား (၁၅၂) မီတာ၊ အနံ (၁၄၆) မီတာ၊ အမြင့်ပေ (၂) မီတာရှိ အုတ်တံတိုင်းခြံစည်းရိုးဖြင့် အခိုင်အမာကာရံထားပါသည်။

(ဃ) စီမံကိန်းဧရိယာအတွင်းသို့ အဝင်/အထွက်ပြုလုပ်သည့်နေရာတွင် အကျယ် (၇) မီတာ၊ အမြင့် (၁.၆) မီတာရှိ အဝင်/အထွက် ဂိတ်တံခါး (၁) ခုထားရှိသွားပါမည်။

(င) ကုန်လှောင်ရုံဝင်းအတွင်း၌ ကုန်တင်ယာဉ်များသွားလာနိုင်ရန်အတွက် အကျယ် (၆) မီတာရှိ ချဉ်းကပ်လမ်းများနှင့် ကုန်တင်ယာဉ်များရပ်နားရန် Car Packing များပြုလုပ်ထားရှိပါသည်။

(စ) ဆက်သွယ်မှုစနစ်များကောင်းမွန်စေရေးအတွက် Phone Line များ ထားရှိသွားမည်ဖြစ်ပြီး IT System နှင့်ပတ်သက်၍ အကောက်ခွန်ဦးစီးဌာန၏ သတ်မှတ်ညွှန်ကြားချက်နှင့်အညီ တပ်ဆင်အသုံးပြုသွားပါမည်။

(ဆ) စီမံကိန်းဧရိယာအတွင်း၌ ရေစနစ်၊ မီးစနစ်အား သတ်မှတ်ချက်များနှင့်အညီ သွယ်တန်းတပ်ဆင်ထားရှိပြီး အရံမီးစက်ပါ ထားရှိအသုံးပြုသွားပါမည်။

(ဇ) စီမံကိန်းဧရိယာအား လုံခြုံမှုရှိစေရေးအတွက် လုံခြုံရေးဝန်ထမ်းများ ထားရှိခြင်း၊ CCTV Camera များ တပ်ဆင်ထားရှိခြင်း၊ Walkie Talkie စနစ်အသုံးပြုခြင်းများ ဆောင်ရွက်သွားပါမည်။

(ဈ) Container များအားစစ်ဆေးရန်အတွက် X-Ray Machine (၁) လုံးတပ်ဆင်၍ အသုံးပြုသွားပါမည်။

(ည) ကုန်လှောင်ရုံဝင်းအတွင်း၌ရေ၊ မီးစနစ်များ သွယ်တန်းတပ်ဆင်ခြင်းနှင့် အရံမီးစက်များ ထားရှိသွားပါမည်။

(ဋ) လုံခြုံရေးစနစ်အတွက် CCTV များတပ်ဆင်ခြင်း၊ Walkie Talkie စနစ်ထားရှိသွားပါမည်။

(ဌ) Fire Fighting System များအား မြန်မာနိုင်ငံ မီးသတ်ဦးစီးဌာန၏ စံချိန်စံညွှန်းနှင့်အညီ တပ်ဆင်ထားရှိသွားပါမည်။

(ဍ) လုပ်ငန်းခွင်အတွင်းသဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုအစီအမံအဖြစ် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ အစီအမံများထားရှိလိုက်နာဆောင်ရွက်သွားပါမည်။

(ဎ) လုပ်ငန်းခွင်အတွင်းလုပ်ငန်းများဆောင်ရွက်ရန်အောက်ဖော်ပြပါ Equipment and Tools များအား ထားရှိအသုံးပြုသွားပါမည် -

(၁) Pallet Rocks/ Pallet Cage

(၂) Steel, Nylon Sling

(၃) Security Wire Partations

(၄) Guardrails

(၅) Ladders

(၆) Lockers

(၇) Customs Boxes/ Corrugates Boxes

(၈) Dock Leveler – $10^t$ – 4 Set

(၉) Forklift (2.5 – 5Tons) (2) Units

ကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းများအတွက်စီမံခန့်ခွဲမှုအစီအစဉ်

၆။ ကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းများနှင့် ပတ်သက်၍အောက်ပါအတိုင်း စီမံခန့်ခွဲဆောင်ရွက်သွားမည် ဖြစ်ပါသည် -

(က) ကုမ္ပဏီမှဆောင်ရွက်မည့် လုပ်ငန်းများအတွက် မန်နေဂျာတစ်ဦးအားခန့်ထားပြီး ၎င်း၏ လက်အောက်တွင်လုပ်ငန်းအမျိုးအစားအလိုက် လက်ထောက်မန်နေဂျာ (၃) ဦးအား ခန့်ထား၍ လုပ်ငန်းတစ်ခုချင်းစီအတွက် Administration နှင့် Operation လုပ်ငန်းများ အတွက်ကျွမ်းကျင်ဝန်ထမ်းများအား ခန့်အပ်ထားပါမည်။ (လုပ်ငန်းနှင့်ပတ်သက်သည့် Organization Chart အား နောက်ဆက်တွဲ (ဂ) ဖြင့်ဖော်ပြထားရှိပါသည်)

(ခ) သွင်းကုန်/ထုတ်ကုန် ပစ္စည်းများအတွက် အထောက်အကူပြုလုပ်ငန်းများဖြစ်သည့် Documents Process၊ Custom Clearance (Import/ Export)၊ Stuffing & Unstuffing Services၊ Delivery Service များအတွက် ကုမ္ပဏီမှခန့်အပ်ထားသည့်Agents များ၊ Skill Labor များ၊ ကုမ္ပဏီပိုင်စက်ယန္တရား နှင့် မော်တော်ယာဉ်များဖြင့် ၂၄ နာရီ ဝန်ဆောင်မှုပေးနိုင်ရေး စီမံဆောင်ရွက်သွားပါမည်။

(ဂ) Road Transport နှင့်ဆိုင်သည့် Logistics လုပ်ငန်းများအတွက် မိမိတို့ကုမ္ပဏီသည်ကုန်းလမ်းပို့ဆောင်ရေး ညွှန်ကြားမှုဦးစီးဌာနမှ ဆောင်ရွက်နေသည့် Cross Border Operation အတွက် Transport Operator License ရရှိထားပြီးဖြစ်ပါ၍ သက်ဆိုင်ရာဦးစီးဌာန၏ လမ်းညွှန်မှုနှင့်အညီ မြန်မာနိုင်ငံကုန်သေတ္တာမော်တော်ယာဉ်များအသင်းတို့နှင့် ပေါင်းစပ်ညှိနှိုင်း၍ Logistics လုပ်ငန်းများအား သတ်မှတ်စံချိန်စံညွှန်းနှင့် အညီ စီမံဆောင်ရွက်သွားပါမည်။

(ဃ) အာမခံကုန်လှောင်ရုံ (Bonded Warehouse) တည်ဆောက်ပြီး အကောက်ခွန်ရှင်းလင်းခြင်းလုပ်ငန်းများအတွက် အောက်ပါအတိုင်းစီမံဆောင်ရွက်သွားပါမည် -

(၁) အာမခံကုန်လှောင်ရုံ (Bonded Warehouse) ဖွင့်လှစ်အသုံးပြုခွင့် ရရှိရေးအတွက် အကောက်ခွန်ဦးစီးဌာန၏ သတ်မှတ်ညွှန်ကြားချက်နှင့်အညီ လျှောက်ထားခြင်း၊ အကောက်ခွန်ဦးစီးဌာန၏ မြေပြင်စစ်ဆေးရေးအဖွဲ့ဖြင့် စစ်ဆေးမှုကိုခံယူပြီးနောက် ကုန်လှောင်ရုံလိုင်စင်ရရှိရေးအား ဆောင်ရွက်သွားပါမည်။

(၂) ပြည်ပမှတင်သွင်းလာသည့် ကုန်ပစ္စည်းအား ကုန်လှောင်ရုံအတွင်းသို့ထည့်သွင်းခြင်း၊ ထုတ်ယူခြင်း၊ ရွှေ့ပြောင်းခြင်းများနှင့် ပတ်သက်၍ အကောက်ခွန်ဦးစီးဌာန၏ သတ်မှတ်ပုံစံများနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားပြီးနောက် အကောက်ခွန်ကြီးကြပ်မှုဖြင့် သိုလှောင်မည့် ကုန်လှောင်ရုံ

